ပြည်ထောင်စုမြန်မာနိုင်ငံတော်

UNION OF MYANMAR

အခွန်တံဆိပ်ခေါင်း

REVENUE STAMP

၂၅ ကျပ် ငွေနှစ်ဆယ့်ငါးကျပ် K25

မြေကွက်ဂိုဒေါင်ငှားရမ်းခြင်းသဘောတူကတိစာချုပ်

နေ့စွဲ။ ။ ၃၀.၁၂.၂၀၀၃.

| | | |
|---|---|---|
| ဂိုဒေါင်ပိုင်ရှင်။ | အမည် | ဦး[illegible]ထွေး |
| | မှတ်ပုံတင်အမှတ် | ၁[illegible]/လသန (နိုင်) ၀၁၆၂၀၆ |
| | နေရပ်လိပ်စာ | အမှတ်(၅၁)၊ လှိုင်မြင့်မိုရ်လမ်းသွယ်(၃)၊ ကန်လမ်း၊ လှိုင်မြို့နယ်၊ရန်ကုန်တိုင်း။ |
| ဂိုဒေါင်ငှားရမ်းသူ။ | အမည် | ဒေါ်သီသီဝင်း |
| | မှတ်ပုံတင်အမှတ် | ၁၂/သဃက (နိုင်) ၀၆၇၇၀၅ |
| | နေရပ်လိပ်စာ | အမှတ်(၅)၊မိုးမခလမ်း(၃)၊ (၄၆)ရပ်ကွက်၊ဒဂုံမြို့သစ်မြောက်ပိုင်းမြို့နယ်။ရန်ကုန်တိုင်း။ |

အထက်ပါ ဂိုဒေါင်ပိုင်ရှင် နှင့် ဂိုဒေါင်ငှားရမ်းသူ ဟု ဆိုရာတွင် ၎င်းတို့၏တရားဝင် ကိုယ်စားလှယ်များ၊ အမွေဆက်ခံသူအားလုံးပါဝင်သည် ဟုမှတ်ယူရမည်။

၁။ ငှားရမ်းသည့်ဂိုဒေါင်

ရန်ကုန်တိုင်း၊လှိုင်သာယာမြို့နယ်၊စက်မှုဇုန်အကွက်(  )၊မြေကွက်အမှတ် (၁၄၉/၁၅၀)၊ ဦးတရုတ်ကြီးလမ်းတွင်တည်ရှိသောမြေအကျယ် (2.5)ဧကပေါ်ရှိ မြေအကျယ်(24x100)အတွင်း တည်ရှိသော Office အကျယ် (10x100) /(40x 100)၂ထပ်၂ခုအပါအဝင်ဖြစ်ပါသည်။ နံပါတ်(685257) Fax Phone (၁) လုံး နှင့် နံပါတ် (685131) Phone (၁) လုံးဝင်ပါသည်။

၂။ ငှားရမ်းခ

တစ်လလျှင် Fec 500 (Fec 500) တိတိဖြင့်ပေးချေရန်သဘောတူပါသည်။

၃။ ငွေပေးချေပုံစနစ်

တစ်နှစ်ငှားရမ်းခပေးပါရန်ဖြစ်ပါသည်။ တစ်နှစ်ငှားရမ်းခြင်း သက်တမ်းကို (၁. ၁. ၂၀၀၄)မှ (၃၁. ၁၂. ၂၀၀၄)ထိသတ်မှတ်ပါသည်။

၄။ ငှားရမ်းစဉ်ကျသင့်သောလျှပ်စစ်မီတာခ၊တယ်လီဖုန်းခနှင့်လုပ်ငန်းအခွန်များ၊ စက်မှုဇုန်အတွက် အခါအားလျော်စွာ ကျသင့်သောအလှူတော်ငွေများကို ငှားရမ်းသူကကျခံရမည်။ ထိုအပြင်ငှားရမ်းသည့်မြေ ဂိုထောင်အားတဆင့်ရောင်းချခြင်း၊ လွှဲပြောင်းခြင်းမပြုလုပ်ရ။ ဥပဒေနှင့်ဆန့်ကျင်ဘက် ကိစ္စရပ်များ ငှားရမ်းသူကမပြုလုပ်ရ။

၅။ မူလငှားရမ်းသည့်သက်တမ်းပြည့်ပါက ငှားရမ်းမှုရပ်စဲ[illegible]ည်ဖြစ်ပြီး၊ ငှားရမ်းသူကပိုင်ရှင်သို့ ဥပဒေနှင့်

အညီမူလအခြေအနေအတိုင်း လက်ရောက်အပ်နှံရမည် ငှားရမ်းသက်တမ်းလပြည့်၍ ငှားရမ်းသူကဖြစ်စေ၊အငှားချသူကဖြစ်စေ၊ ဆက်လက်ငှားရမ်းလိုပါက (၃)လကြိုတင်၍ နှစ်ဘက် ညှိနှိုင်းဆော်ရွက်ကြရန် သဘောတူပါသည်။

၆။ ငှားရမ်းသူကမိမိစရိတ်ဖြင့် ထပ်မံတိုးချဲ့ပြင်ဆင်ဆောက်လုပ်လိုပါက အငှားချထားသူ ပိုင်ရှင်၏ သဘောတူညီချက်ကိုရယူရန်ဖြစ်သည်။ခွင့်ပြုချက်ရ၍ပြင်[illegible]ပါက ငှားရ[illegible]းရပ်ဆိုင်းသည့်အခါ (စက်ပစ္စည်းမှအပ) ၎င်းဆောက်လုပ်ပြင်ဆင်ထားသော အ[illegible]များကို [illegible]ရန် သဘောတူပါသည်။

၇။ ငှားရမ်းစဉ်ကာလအတွင်း ငှားရမ်းသူ၏ပျက်ကွက်မှုကြောင့် မီးလောင်ပျက်စီးပါက အငှားချထားသူ၏ပစည်းကိုမူလနဂိုအတိုင်းပြန်လည် ပြင်ဆင် ဆောက်လုပ်ပေးရန်သဘောတူပါသည်။

အထက်ပါအချက်အလက်များကို နှစ်ဦးနှစ်ဘက်က ဖတ်ရှုနားလည်သဘောပေါက်ကြပြီး အောက်ပါအသိသက်သေများရှေ့၌ မိမိတို့လွတ်လပ်သော သဘောဆန္ဒနှင့်အညီလက်မှတ်ရေးထိုး ချုပ်ဆိုကြပါသည်။

ကိုဒေါ်ငှားရမ်းသူ

(၁) လက်မှတ်

ကိုဒေါ်အငှားချသူ(ပိုင်ရှင်)

(၂) လက်မှတ်

အသိသက်သေများ

၁။ လက်မှတ်
အမည် ပေါပေါငွေး
မှတ်ပုံတင်အမှတ်
၉/ညဥန(နိုင်)၀၅၄၂၇၇
နေရပ်လိပ်စာ
ပုဂံ/ညောင်ဦး

(၂)။ လက်မှတ်
အမည် ယုယုဝင်း
မှတ်ပုံတင်အမှတ်
၁၂/အစန(နိုင်)၀၆၇၃၀၆
နေရပ်လိပ်စာ
အင်းစိန်

# မြေငှားစာချုပ်

၁၉၉၉ ခုနှစ်၊ (မြေငှား) အမှုတွဲ အမှတ် လသယ/၄/၁၅၇/၉၉ အရ၊ ထုတ်ပေးသည်။
၁၂.၁၁.၉၉

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ" ဟုရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့်စကားရပ်တွင် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

နှင့် ဖူးကျော် မြို့နေ၊ ဦး ခွန်မိုစ၊ လစ်ဖိုန်ဖေ (ခ) ခင်မောင်ကြည် ၏၊ သား ဖြစ်သော ဖူးကျော် အမျိုးသားမှတ်ပုံတင်အမှတ် ၁၄/ပသခ(နိုင်)၀၀၀၀၃၂ ၁၂/လသန(နိုင်)၀၁၄၂၀၄ နောက်တွင် "အငှား စာချုပ်ရသူ" ဟုရည်ညွှန်းသည်) တို့၊ ၁၃၆၁ ခုနှစ်၊ နတ်တော် လဆန်း/လပြည့်ကျော် ၈ ရက်နေ့၊ ၁၉ ၉၉ ခုနှစ်၊ (ဒီဇင်ဘာ လ ၁၅ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်–ချုပ်ဆိုကြသည်။

အငှားစာချုပ်ရသူက–နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ဖော်ပြထားသော ပဋိညာဉ်ချက်များကို ပြုမည်ဖြစ်သောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက်အားလုံးကိုလည်းကောင်း၊ ထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်–ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွ အငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ ရေနံတွင်းများ၊ ရေတွင်းများ၊ ပြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကျောက်တွင်း (Quarries) စသည်တို့သည် ဤစာချုပ်ဖြင့် အငှားချထားခြင်းတွင် မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရာ၌၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကို နှောင့်ယှက်ပျက်စီးစေခဲ့လျှင် အငှားစာချုပ်ရသူအားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းပွားမှုဖြစ်ခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ်–ချုပ်ဆိုသည့် ၁၅.၁၂.၁၉၉၉ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြားအတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ၆၀ ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၁၄ ခုနှစ် ဒီဇင်ဘာ လ ၁၄ ရက်နေ့၌၊ ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် ၁၃၄၆/. ပြား ( ကျပ်တစ်ထောင်သုံးရာလေးဆယ့်ခြောက် ) စီကို ဇန်နဝါရီလ ၁–ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇန်နဝါရီလ ၁–ရက်နေ့တွင် လည်းကောင်း၊ ဧပြီလ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁–ရက်နေ့တွင် လည်းကောင်း၊ ဇူလိုင်လ ၁–ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇူလိုင်လ ၁–ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁–ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁–ရက်နေ့တွင်လည်းကောင်း ကြိုတင်ပေးဆောင်ရမည်။ အဆိုပါ နှစ်ခြောက်ဆယ်ကာလ အပိုင်းအခြား၏ ဒုတိယတဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊ စတုတ္ထတစ်ဆယ့်ငါးနှစ်အတွက် အပိုဒ်၅–တွင် ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင် ရမည်။

SPECIAL ADHESIVE LABEL

THIRTY KYATS

15 DEC 1999

၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အထက်၌ မြေငှားခကို [illegible] သတ်မှတ်ထားသည့် နေ့ရက်များတွင် သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အဆိုပါမြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံပေါ်၌သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း အဆိုပါ နှစ်ခြောက်ဆယ့် ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ စည်းကြပ်လတ္တံ့ ဖြစ်သော အခွန်အတုတ်အားလုံးကို ပေးဆောင်ရန်။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၆–လအတွင်း စတင်ဆောက်လုပ်၍ နှစ်နှစ်အတွင်း အဆိုပါမြေကွက်ပေါ်၌ ကောင်းမွန်ခိုင်ခံ့သော လူနေအိမ်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေများနှင့် အညီ၊ ပြီးစီးအောင်ဆောက်လုပ်ရန်နှင့် ထိုလူနေအိမ်စသည်တို့ကို အဆိုပါနှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက်တည်ရှိသော ရပ်ကွက်၌သက်ဆိုင်ရာဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်နှင့်ရေပိုက်များ ချထားလျှင်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်ထားသော အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) သက်ဆိုင်သော ဒေသန္တရအာဏာပိုင်က ခွင့်ပြုသော အဆောင်ခွဲနှင့် အလုပ်သမားတန်းလျားများမှအပ အဆိုပါမြေကွက်ပေါ်၌ အဆောက်အအုံတစ်ခုထက်ပို၍ မဆောက်လုပ်ရန်။

(င) အငှားချထားသူ၏ စာဖြင့် သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြားအတွင်းအဆိုပါ မြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန်အတွက် မှတစ်ပါး၊ အခြားကိစ္စအတွက် အသုံးပြုရန်နှင့် အဆိုပါ မြေကွက်ပေါ်တွင် ဆောက်လုပ်သည့် လူနေအိမ်ကို လူနေအိမ်အဖြစ်မှ တစ်ပါး အခြားနည်း အသုံးမပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ၊ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်ပြင် ၎င်းမြေတစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများမပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့်စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသောအဆောက်အအုံသို့ဖြစ်စေ၊နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြားတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ခင်းသင့်တော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါမြေကွက်တည်ရှိသည့် အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့်အမြဲတွဲကပ်ထားသော ပစ္စည်းမပါဝင်စေဘဲ၊အဆိုပါမြေကွက်ကိုအငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်။ သို့ရာတွင် အငှားချထားသူက အပိုဒ် ၂–အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရုပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသောပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်။

## အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၁၉[illegible]ခုနှစ် အတွင်းတွင် ဖြစ်စေ ထိုနောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါ မြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို သို့တည်းမဟုတ် ၎င်း၏ အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလ ဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ မပြေကျန်ရှိလျှင် သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များ အတိုင်း လိုက်နာဆောင်ရွက် ရန်ပျက်ကွက်လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါ မြေငှားခကို ရယူရန် ချက်ချင်း အမှုဖွင့်နိုင်သည်။ ထိုပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံ ချက်ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကိုဖြစ်စေ၊အဆိုပါမြေကွက်ပြန်လည်သိမ်းယူနိုင်ခွင့်ကိုဖြစ်စေ စွန့်လွှတ်ခဲ့စေကာမူ ဤစာ ချုပ်ကို ပယ်ဖျက်၍အဆိုပါ မြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံများ၊ ထိုဆောက်အအုံများနှင့် အမြဲကွယ် ကပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂-အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့်
နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။
သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍
လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း
ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော
မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို
ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့
ပေးဆောင်လျှင်သော်လည်းကောင်း၊အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန်
အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်
ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်
သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ထိုအဆောက်အအုံနှင့်အမြဲတွယ်ကပ်ထားသောပစ္စည်းများကို
လက်ရှိ ထားနိုင်ခွင့်ကို ငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း
တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော
ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက
ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများသို့တည်းမဟုတ်
ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊
အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ်
ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌
တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂-အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ်
ကာလအပိုင်းအခြား ကုန်ဆုံးသည့်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံ
ချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ်
ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ
ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင်
ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) (၂၀၁၄ )ခုနှစ်၊ ဒီဇင်ဘာ လ၊ (၁၄ )ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံး
သည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို
လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄-အရ စည်းကြပ်သော
သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄-
အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍
အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထား
သည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေး
ဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍
ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေး
ဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့်
လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း
သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ
နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြား
ရမည်။ အကြောင်းကြားစာနှင့်အတူပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှခြောက်လ အတွင်းနောင်
နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့်
မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို
သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို
အငှားစာချုပ်ရသူကပေးဆောင်ရန်။

ဤစာချုပ်ပါစကားရပ်များကို သိရှိနားလည်ကြပြီးဖြစ်သဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့ရှေ့တွင် ဦးစီးဌာနတံဆိပ်ကိုခပ်နှိပ်၍ အဆိုပါညွှန်ကြားရေးမှူးချုပ်နှင့် အဆိုပါ ဦးမြင့်ဝေ၊ ဒေါ်ခင်ဝေ သည် ဤစာချုပ်ကိုအထက်၌ဖော်ပြခဲ့သည့်နေ့တွင် လက်မှတ် ရေးထိုးကြကြောင်း။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန

မြို့ - ရန်ကုန်

တံဆိပ်ကို ညွှန်ကြားရေးမှူးချုပ် ဦးအံ့ကျော် တံဆိပ် ညွှန်ကြားရေးမှူးချုပ်

ဒုတိယညွှန်ကြားရေးမှူးချုပ် ဗိုလ်မှူးကြီး တင်ယွန်း ဒုတိယညွှန်ကြားရေးမှူးချုပ်

နှင့် ညွှန်ကြားရေးမှူး ဦးတင်ဝင်း တို့
ရှေ့မှောက်၌ ခပ်နှိပ်၍ အဆိုပါ
ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့်
ညွှန်ကြားရေးမှူးတို့လက်မှတ် ရေးထိုးသည်။

ညွှန်ကြားရေးမှူး

**အသိသက်သေ။**

ဒုတိယညွှန်ကြားရေးမှူး (မြေနှင့်အခွန်) ဦးကျော်ဝင်း

အငှားစာချုပ်ရသူ ဦးမြင့်ဝေ၊ ဒေါ်ခင်ဝေ က
လက်မှတ်ရေးထိုးသည်။

အငှားစာချုပ်ရသူ

**အသိသက်သေ။**

၁။ [illegible]

၂။

ဦးစိုးအရာရှိ
စီမံနှိုင်းညှိရေးဌာန
လှိုင်သာယာစက်မှုမြို့
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

ဦးစိုးအာရာရှိ
မြေနှင့် အခွန်ဌာနခွဲ (ရုံးချုပ်)

အထက်တွင် ရည်ညွှန်းထားသည့် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန၏ စီမံကိန်းမှု
ဖွင့်ဖြူပြီး မြေပုံဖြစ်သော လုနေရပ်ကွက်အမှတ် လှိုင်သာယာစက်မှုမြို့
မြေတိုင်းရပ်ကွက်အမှတ် ၃၀ ပိုင်း - ၄
ရန်ကုန်မြို့ လှိုင်သာယာ မြို့နယ်။

အတွင်းရှိ ______ တန်းစား၊ မြေကွက်အမှတ် ၁၅၀
ဖြစ်သည်။ ပူးတွဲပါ မြေပုံ၌ မင်နီဖြင့် ပြထားသော အလျား ၄၃၃´ ၄၂၀´ ပေ၊ အနံ ၁၂၆´၆" ၁၁၆ ပေခန့်ရှိသော အလား အလာ

အရှေ့လားသော လမ်း

အနောက်လားသော မြေကွက်အမှတ် - ၁၁၆

တောင်လားသော မြေကွက်အမှတ် - ၁၄၉

မြောက်လားသော မြေကွက်အမှတ် - ၁၅၁

အတွင်းရှိ မြေအားလုံး ဧရိယာ ၁.၂၃၄ ဧက၊ (စတုရန်းပေ ၅၃၇၄၁.၂၅)

1.234 ဧ

4/150

FORM XXVI

# PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : MYANMAR AYEYARWADDY MANUFACTURING COMPANY LIMITED

Presented by : DAW AYE KYWE (MANAGING DIRECTOR)

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. DAW AYE KYWE | MYANMAR 12/MA YA KA (NG)098299 | NO.12,NYI NYUT YAY STREET 11TH MILE, MAYANGONE TOWNSHIP. YANGON. | MERCHANT | CHANGED FRON DIRECTOR TO MANAGING DIRECTOR w.e.f 12. 7.2004 |
| 2. DAW YU YU AYE | MYANMAR 12/U KA MA (NG) 099777 | NO,537,1 STREET YUZANA BLOCK,NO 2 N/OKKALAPA YANGON. | MERCHANT | APPOINTED AS DIRECTOR w.e.f 12. 7.2004 |
| 3. DAW THI THI WIN | MYANMAR ~~XXXX~~12/THA GA KA (NG)068705 | 5,MOE MA KHA STREET,(46) WARD,NORTH DAGON MYOTHIT TOWNSHIP, YANGON. | MERCHANT | RESIGNED FROM MANAGING DIRECTOR w.e.f 12. 7.2004 |

**NOTE :** (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ..................." and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Dated this ..........................................

Signature ........................

DAW AYE KYWE

Designation ..MANAGING..DIRECTOR

Myanmar Ayeyarwaddy Mfg; Co.

YANGON.

Witness U TUN LIN
12/U KA TA (NG)100641

Transferee DAW YU YU AYE(12/U KA

ပုံစံ(မနသ-၂)
အမှတ် ၄၂၂၇
နေ့စွဲ ၂၆-၄-၂၀၀၃

# မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

...../ ၂၀၀၃ ။ ၂၀၀၃ ခုနှစ်၊ ဧပြီ လ ၂၆ ရက်။

ာ်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ

ည် ..... ဒေါ် သီသီဝင်း

..... ဦး ပန်း တိန်

ပ်ပုံတင်အမှတ် ..... ၁၂/သဃက(နိုင်)၀၆၈၇၀၅

၊ မိုး မခလမ်း၊ (၄၆) ရပ်ကွက်

က် ပိုင်း ) မြို့နယ်၊ ရန်ကုန်မြို့

ဖွဲ့စည်းမည့်အဖွဲ့အစည်း မြန်မာဧရာဝတီထုတ်လုပ်မှုကုမ္ပဏီ

..... Ayeyarwaddy Manufacturing Co., Ltd. )

န်းအမျိုးအစား CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်းလုပ်ငန်း

.....

ဒေသ(များ) မြေကွက်အမှတ် (၉)၊ မြေတိုင်းရပ်ကွက်အမှတ်

ကွက်၊ အင်း စိန်မြို့နယ်၊ ရန်ကုန်တိုင်း

၉ .၆၄ ) သန်း ( ကျပ်တစ်ဆယ့်ကိုးသန်း ခြောက်သိန်း
လေးသောင်း )

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

၄၇၀၃/၂၇/၄ ၃561/25/4

အထွေထွေ အရပ်ရပ် – ၁၆

~~(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်)~~

အကြောင်းအရာ။ ။ မြန်မာဧရာဝတီထုတ်လုပ်မှုကုမ္ပဏီလီမိတက် (လုပ်ငန်းအဟောင်း) မှ CMP စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော မြန်မာဧရာဝတီထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Myanmar Ayeyarwaddy Manufacturing Co.,Ltd) မှ ဦးတင်ကြိုင်၊ ဒေါ်ဌွန်းကြည်တို့အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း၊ အင်းစိန်မြို့နယ်၊ စဉ့်ငုံရပ်ကွက်၊ မြေကွက်အမှတ် (၉)၊ မြေတိုင်းရပ်ကွက်အမှတ် (၄၀၀/ B) ရှိမြေဧရိယာ (ဝ̄.၄၆) ဧကအနက်မှ (ဝ̄.၃၁) ဧက (၁၂၅၄.၅၃ စတုရန်းမီတာ) နှင့်ယင်းမြေပေါ်ရှိအဆောက်အဦးကိုငှါးရမ်း ဆောင်ရွက်လျက်ရှိသော CMP စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြချက်အား (၆-၂-၂၀၀၃) နေ့တွင်ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄/၂၀၀၃) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှမူအားဖြင့်သဘောတူညီခဲ့ပြီး (၁၃-၃-၂၀၀၃) နေ့တွင်ကျင်းပသောကုန်သွယ်မှုမူဝါဒကောင်စီ၏ (၉/၂၀၀၃) ကြိမ်မြောက်အစည်းအဝေးသို့ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေးမှသဘောတူညီချက်အရ အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ (၃-၄-၂၀၀၃) နေ့တွင်ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၁၂/၂၀၀၃) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ သဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။

၂/-

အထွေထွေ အရပ်ရပ် - ၁၆

~~(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်)~~

၃။ ထို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅) ပုဒ်မ ၁၀ နှင့် ယင်းဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း (၄) အပိုဒ် (၁၂) တို့နှင့်အညီ မြန်မာ့ဧရာဝတီထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Myanmar Ayeyarwaddy Manufacturing Co.,Ltd.) သို့ထုတ်ပေးမည့် ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာတွင် လက်မှတ်ရေးထိုးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

-၄-၂၀၀၃။

ဥက္ကဋ္ဌ

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရကာ-၁/မ-၁၃၆၅/၂၀၀၂ (ပြ၃ဂ်ဖြ-၉)။
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ မတ်လ ၂၅ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ သို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ မြန်မာဧရာဝတီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (လုပ်ငန်းအဟောင်း) မှ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော မြန်မာဧရာဝတီထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Myanmar Ayeyarwaddy Manufacturing Co., Ltd.) မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် ရရှိရေးအတွက် CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီမှ စိစစ်ထောက်ခံ တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၆-၂-၂၀၀၃) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ (၁၃-၃-၂၀၀၃)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၈/၂၀၀၃) အစည်းအဝေး သို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ ထားပါသည်။

၂။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ စုစုပေါင်း ကျပ် (၁၉.၆၄)သန်းဖြစ်ပါသည်။ စက်ပစ္စည်းများကို ပြည်တွင်းမှဝယ်ယူအသုံးပြုထားကြောင်းတင်ပြထားပါသည်။

၃။ ယင်းလုပ်ငန်းကို ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီထံမှ ဦးတင်ကြိုင်၊ ဒေါ်ညွန့်ကြည် တို့ အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြေတိုင်းရပ်ကွက် အမှတ် (၄၀၀/B)၊ မြေကွက်အမှတ်(၉)၊ စဉ့်ငူ ရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေဧရိယာ(၀.၄၆)ဧက အနက်မှ(၀.၃၁)ဧက (၁၂၅၄.၅၃ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦကို ငှါးရမ်း၍ လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။

၄။ လုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၉) ရာခိုင်နှုန်းကို CMP စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး၊ ကျန် ပယ်ထည် Reject (၁) ရာခိုင်နှုန်းအား ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု

များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) |
|---|---|---|
| ၁။ | Jacket | ၂၅၀၀၀ |
| ၂။ | Trouser | ၂၅၀၀၀ |
| ၃။ | Other (Vest, Panty....etc) | ၃၀၀၀၀ |

၅။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ်နှင့် (၇)လဖြစ်ပြီး၊ အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၃.၄၃)ရာခိုင်နှုန်း ဖြစ်ပါသည်။

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဝင်ငွေခွန်

| | | |
|---|---|---|
| | ကျပ် | ၀.၇၉ သန်း |
| | အမေရိကန်ဒေါ်လာ | ၀.၀၉ သန်း |

(ခ) ကုန်သွယ်လုပ်ငန်းခွန်

| | | |
|---|---|---|
| | ကျပ် | ၁.၁၈ သန်း |

၇။ လုပ်ငန်းကို ပြည်တွင်းမှ ဝန်ထမ်း(၃၃၀)ဦး နှင့် ပြည်ပမှ ဝန်ထမ်း(၂)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းအတွက် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနသို့ သဘောထား မှတ်ချက်တောင်းခံခဲ့ရာ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်းမှ ဓါတ်အားဆက်လက်ပေးနိုင်ပါကြောင်း ပြန်ကြားလာပါသည်။

၉။ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အားပေတ်ဝန်းကျင်မှ ကန့်ကွက်ရန် မရှိကြောင်း၊ သက်ဆိုင်ရာ ရပ်ကွက် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ ထောက်ခံထားခြင်းတို့ကြောင့် ဆက်လက်ဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၀။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှု၊ CMP ချုပ်ခ ရငွေများနှင့် ပတ်သက်၍ လမ်းညွှန်ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိများပြုထားပါသည်။

၁၁။ ကုမ္ပဏီ မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) မြန်မာရှေဝတီ ထုတ်လုပ်မှု ကျွှထီ လီမိတက် မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

(ဂ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပေးရာတွင် CMP လက်ခ စား လုပ်ငန်းများ စီစစ်ရေးကော်မတီမှ ထောက်ခံတင်ပြသည့် အလားတူ CMP လုပ်ငန်း ဟောင်းများ နည်းတူ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ တရားဝင် ခွင့်ပြုမိန့် ထုတ်ပေး သည့်နေ့မှ စ၍ ခံစား ခွင့်ပြုရန် သဘောတူ–မတူ။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

အစိုးရအဖွဲ့ ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဦးသောင်း)

ဥက္ကဋ္ဌ

ဝန်ကြီး၊ သိပ္ပံနှင့် နည်းပညာ ဝန်ကြီးဌာန

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

# မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း

စာအမှတ်၊ ၃၀ /အသပ(ထ)ရင်းနှီးမြှုပ်နှံမှု/.၂၀၀၃။

ရက်စွဲ ၊ ၂၀၀၃ခုနှစ်၊ ဇန်နဝါရီလ( [illegible] )ရက်။

အကြောင်းအရာ။ ။ <u>သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။</u>

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁-၁၂-၂၀၀၂ ရက်စွဲပါ စာအမှတ် ရက-၁-မ/သဘောထား/၂၀၀၂(၄၀၃၉)။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုလွှာများနှင့် ပတ်သက်၍ ရည်ညွှန်းစာဖြင့် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏သဘောထားမှတ်ချက် တောင်းခံလာပါ သည်။

၂။ နောက်ဆက်တွဲပါ(၄)ဦးမှာ လုပ်ငန်းသစ်များမဟုတ်ဘဲ တည်ဆောက်ပြီးလည်ပတ်နေသော စက်ရုံများဖြစ်၍ လျှပ်စစ်ဓာတ်အား ရရှိသုံးစွဲလျှက်ရှိပါသည်။ ဆက်လက်ဓာတ်အားပေးနိုင်ပါကြောင်း ပြန်ကြားအစီရင်ခံအပ်ပါသည်။

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

ဦးဆောင်ညွှန်ကြားရေးမှူး(
(ဒေါက်တာစန်းဦး-အင်ဂျင်နီယာချုပ်)

လိပ်စာ
၁၉၇ - ၁၉၉၊ ကြည်မြင်တိုင်အောက်လမ်း၊
အလုံစာတိုက်၊ ရန်ကုန်မြို့။

ကြေးနန်း
လျှပ်စစ်အဖွဲ့

တယ်လီဖုန်း
၂၂၂၈၆၆

<u>မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့် တင်ပြလာသည့် အဆိုပြုချက်များ</u>

| စဉ် | ကုမ္ပဏီအမည်နှင့် အဆိုပြုသူအမည် | လုပ်ငန်းအမျိုးအစား | ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ | လျှပ်စစ်ဓာတ်အား လိုအပ်ချက် | လျှပ်စစ်ဓာတ်အားလက်ရှိသုံးစွဲနေမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁။ | မြန်မာဗွီတီ ကုမ္ပဏီလီမိတက်<br>ဦးအောင်ကျော်သန်း | CMPစနစ်ဖြင့်အထည်ချုပ် လုပ်ငန်း | ရန်ကုန်မြို့၊ ရွှေပြည်သာစက်မှုဇုန် (၁) မြေတိုင်းရပ်ကွက် အမှတ် ၄၂/မြေကွက် အမှတ် ၁၀၃၊ ကနောင်မင်းသားကြီးလမ်း၊ | ၇၄၀၀၀ ကီလိုဝပ်<br>(မဖြစ်နိုင်ပါ။)<br>၄၀၀ KVA | ၃ သွင် ၄ ကြိုး (၅၀/၁၀၀) အင်ပီယာ (မီတာအမှတ်-XN- 11925) ဖြင့် မြင်းကောင်ရေ (၁၀) ကောင်ကို သုံးစွဲခွင့်ပြုထားပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၂။ | မြန်မာရောဝတီထုတ်လုပ်မှု ကုမ္ပဏီလီမိတက်<br>ဒေါ်သင်းသင်းဝင်း | CMPစနစ်ဖြင့်အထည်ချုပ် လုပ်ငန်း | ရန်ကုန်မြို့၊ အင်းစိန်မြို့နယ် အမှတ် (၉၁၂) အောက်မင်္ဂလာဒုံလမ်း။ | ၂၅၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၃၀/၁၀၀) အင်ပီယာ (မီတာအမှတ်-XN- 14675) ဖြင့် မြင်းကောင်ရေ (၄၀) ကောင်ကို သုံးစွဲခွင့်ပြုထားပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၃။ | နီလာဝင်းကုမ္ပဏီလီမိတက်<br>ဦးဇော်လင်းလတ် | CMPစနစ်ဖြင့်အထည်ချုပ် လုပ်ငန်း | ရန်ကုန်မြို့၊ မြောက်ဥက္ကလာပမြို့နယ် ရွှေပေါက်ကံစက်မှုဇုန် အမှတ် ၂၂၇/၂၂၈ ဗိုလ်တေဇလမ်း။ | ၃၀၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၅၀/၁၀၀) အင်ပီယာ မြင်းကောင်ရေ (၄၀) ကောင်ကို သုံးစွဲခွင့်ပြုထားပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၄။ | ဥတ်ဒ်ဝဲယားမင်န်ယူဖက်ချားရင်း လီမိတက်<br>ဦးကျော်ယိန်မွှဲ | CMPစနစ်ဖြင့်အထည်ချုပ် လုပ်ငန်း | ရန်ကုန်မြို့၊ သဃ်န်းကျွန်းမြို့နယ်၊ အမှတ် ၃၇/၃၈ (က) (၈)ရပ်ကွက်၊ ကြိုးစက်ရုံလမ်း | | ၃ သွင် ၄ ကြိုး (၁၅၀/၅၀) အင်ပီယာ (မီတာအမှတ်-XN- 9927) ဖြင့် မြင်းကောင်ရေ (၅၀) ကောင်ကို သုံးစွဲခွင့်ပြုထားပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

နိုင်ငံခြားဆက်ဆံရေးနှင့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအဖွဲ့

စာအမှတ်၊ ၂၃၃၀/နဆရ/စည်ပင်-ယာ/အုံ(စစ်)

ရက် စွဲ ၊ ၂၀၀၂ ခုနှစ် နိုဝင်ဘာလ ၂၇ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၁၁-၂၀၀၂ ရက်စွဲပါစာအမှတ်၊ ရက-၁/ CMP/ ၂၀၀၂ (၃၄၆၆-ခ)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်မဟုတ်ဘဲ၊ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်လျက်ရှိသော မြန်မာဇရာဂတီထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏ လုပ်ငန်းတည်နေရာနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်**လူနေအိမ်များမှ ကန့်ကွက်ထားမှုရှိ မရှိနှင့် ပတ်ဝန်းကျင်အခြေအနေအား** ကော်မရှင်အစည်းအဝေးသို့ တင်ပြနိုင်ရေးအတွက် စက်ရုံ တည်နေရာပြပုံစံနှင့်အတူ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် ဤကော်မတီသို့ ညှိနှိုင်းမေတ္တာရပ်ခံခဲ့ပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ မေတ္တာရပ်ခံချက်အရ ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီမှ အဖွဲ့ဖြင့် အဆိုပါလုပ်ငန်းဆောင်ရွက်နေသည့် နေရာသို့ ၂၆-၁၁-၂၀၀၂ ရက်နေ့တွင် ကွင်းဆင်း စစ်ဆေး ခဲ့ပါသည်။ ယင်းကုမ္ပဏီ၏ လုပ်ငန်းဆောင်ရွက်မှုနှင့် ပတ်ဝန်းကျင်အခြေအနေ စစ်ဆေးတွေ့ရှိချက်များအား အောက်ပါအတိုင်း သုံးသပ်တင်ပြအပ်ပါသည်-

(က) **စစ်ဆေးတွေ့ရှိချက်။** မြန်မာဇရာဂတီထုတ်လုပ်မှုကုမ္ပဏီလီမိတက်သည် အင်းစိန်မြို့နယ်၊ စဉ့်ကူရပ်ကွက်၊ အောက်မင်္ဂလာဒုံလမ်း၊ အမှတ်(၅၁၂)တွင် CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်လျက်ရှိပါသည်။ မြေဧရိယာအကျယ်မှာ(၂၀၀ပေ× ၅၆ပေ)နှင့်(၄၀ပေ× ၆၀ပေ) ရှိပါသည်။ အဆိုပါမြေပေါ်**တွင် (၁၉၄ပေ× ၄၀ပေ)**ရှိ RC အဆောက်အအုံနှင့် (၉၃ပေ× ၆၂ပေ)ရှိ ပျဉ်ထောင်အဆောက်အအုံရှိပါသည်။ ယင်းမြေနှင့် အဆောက်အအုံကို ပိုင်ရှင်ဖြစ်သူ ဦးမျိုးမြင့်ထံမှ (၅)နှစ်စာချုပ်ဖြင့် ၁-၄-၂၀၀၀ ရက်နေ့မှစတင်၍ ငှားရမ်းပြီး လုပ်ငန်း

ဆောင်ရွက် နေခြင်းဖြစ်ပါသည်။ စက်ရုံ[illegible]တွင် အမှတ်(၂)စက်မှုလက်မှုလုပ်ငန်းစက်ရုံနှင့် ဘောအနီးပတ်ဝန်းကျင်တွင် [illegible]စက်ရုံတို့ တည်ရှိပါသည်။ စက်ရုံပတ်ဝန်းကျင်သန့်ရှင်းသပ်ရပ်မှုရှိပါ[illegible]ရာပြပုံစံကို နောက်ဆက်တွဲ(က) ဖြင့် ပူးတွဲတင်ပြထားပါသည်။ ယင်းကု[illegible]ဒါရိုက်တာမှာ ဒေါ်သီသီဝင်းဖြစ်ပြီး အလုပ်သမား ဦးရေ(၃၆၀)ဦး၊ စက်အလုံးရေ(၁၄၆)လုံး[illegible]အမျိုးသား/အမျိုးသမီးဝတ်ဂျာကင်၊ ဘောင်းဘီ ရှည်နှင့် ကလေးဝတ်အင်္ကျီအထည်များ ထုတ်လုပ်လျက်ရှိရာ တစ်လလျှင် အထည်မျိုးစုံဒါဇင် (၂၆၀၀)ခန့် ထုတ်လုပ်နိုင်ကြောင်း သိရှိရပါသည်။ လုပ်ငန်းလုပ်ကိုင်နေသော နေရာမှာ လူနေရပ်ကွက်အတွင်း ဖြစ်နေသော်လည်း ပတ်ဝန်းကျင်မှ ကန့်ကွက်မှုတစ်စုံတစ်ရာမရှိကြောင်း လက်မှတ်ရေးထိုးထားခြင်းနှင့် သက်ဆိုင်ရာရပ်ကွက်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ထောက်ခံချက်အရ အင်းစိန်မြို့နယ်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ မြန်မာဇရာဝတီ အထည်ချုပ်စက်ရုံအား ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံတင်ပြထားပါသည်။

( ခ ) သုံးသပ်ချက်။ မြန်မာဧရာဝတီထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏ အထည်ချုပ်လုပ်ငန်းသည် လူနေရပ်ကွက်အတွင်း တည်ရှိနေသော်လည်း ယခင်ကတည်းက ဆောင်ရွက်လျက်ရှိသည့် လုပ်ငန်းဖြစ်ခြင်း၊ ပတ်ဝန်းကျင်အား ညစ်ညမ်းမှုမရှိခြင်း၊ အနှောင့်အယှက်မရှိခြင်း၊ ဘေးပတ်ဝန်းကျင်တွင် အခြားစက်ရုံများ တည်ရှိနေခြင်း၊ ပတ်ဝန်းကျင်မှလည်း တစ်စုံတစ်ရာ ကန့်ကွက်မှုမရှိသည့်အပြင် သက်ဆိုင်ရာရပ်ကွက်နှင့်မြို့နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ကန့်ကွက်မှုမရှိကြောင်းထောက်ခံတင်ပြထားခြင်းတို့ကြောင့် ယင်းအထည်ချုပ် လုပ်ငန်းအား ဆက်လက်ဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း သုံးသပ်ရရှိပါသည်။

၃။ • [illegible]ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်မဟုတ်ဘဲ၊ CMP စနစ်ဖြင့် မြန်မာဧရာဝတီထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ဆောင်ရွက်လျက်ရှိသော အထည်ချုပ်လုပ်ငန်း၏ တည်နေရာ၊ ပတ်ဝန်းကျင် အခြေအနေ၊ ကွင်းဆင်းစစ်ဆေးတွေ့ရှိချက်နှင့် သုံးသပ်ချက်များကို သိရှိနိုင်ပါရန် တင်ပြအပ်ပါသည်။

(signature)

ဥက္ကဋ္ဌ

မိတ္တူကို

ရုံးလက်ခံ

မျှောစာတွဲ

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၃၆၅/ ၂၀၀၂ (၄၉၃၂-၀)။
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်။

<u>ကုန်သွယ်မှု မူဝါဒ ကောင်စီ သို့ တင်ပြသည့်</u>

<u>အမှာစာ</u>

အကြောင်းအရာ။ <u>မြန်မာဧရာဝတီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော မြန်မာဧရာဝတီထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Myanmar Ayeyarwaddy Manufacturing Co., Ltd.) မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် ရရှိရေးအတွက် CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီမှ စိစစ်ထောက်ခံ တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၆-၂-၂၀၀၃) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်ကို <u>နောက်ဆက်တွဲ(၁)</u> အဖြစ် တင်ပြထားပါသည်။

၂။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ စုစုပေါင်း ကျပ် (၁၉.၆၄)သန်းဖြစ်ပါသည်။ ယင်းတွင် စက်ပစ္စည်းကိရိယာ တန်ဖိုး ကျပ် (၁၉.၁၆)သန်း နှင့် ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း တန်ဖိုး ကျပ် (၀.၄၈)သန်း ထည့်ဝင်ရင်းနှီးထားပါသည်။ စက်ပစ္စည်းများကို ပြည်တွင်းမှဝယ်ယူအသုံးပြုထားကြောင်းတင်ပြထားပါသည်။

၃။ ယင်းလုပ်ငန်းကို ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီထံမှ ဦးတင်ကြိုင်၊ ဒေါ်ညွန့်ကြည်တို့ အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြေတိုင်းရပ်ကွက် အမှတ် (၄၀၀/B)၊ မြေကွက်အမှတ်(၉)၊ စဥ့်ဂူရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေဧရိယာ(၀.၄၆)ဧက အနက်မှ(၀.၃၁)ဧက (၁၂၅၄.၅၃ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦကို ငှါးရမ်း၍ လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။

၄။ လုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၉) ရာခိုင်နှုန်းကို CMP စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး၊ ကျန်ပယ်ထည် Reject (၁) ရာခိုင်နှုန်းအား ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု နှင့်

ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) | CMP ချုပ်ခ (US$/Doz) | ပြည်တွင်းရောင်း (ကျပ်/ဒါဇင်) |
|---|---|---|---|---|
| ၁။ | Jacket | ၂၅၀၀၀ | ၁၃.၅ | ၂၃၀၀၀ |
| ၂။ | Trouser | ၂၅၀၀၀ | ၈.၀ | ၁၄၄၀၀ |
| ၃။ | Other (Vest, Panty....etc) | ၃၀၀၀၀ | ၃.၆ | ၈၀၀၀ |

၅။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့်ပုံမှန်နှစ်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၁၁.၇၅ | ၃.၈၃ | ၁၅.၅၈ |
| (ခ) | အသုံးစရိတ် | ၉.၉၀ | ၀.၈၄ | ၁၀.၇၄ |
| (ဂ) | အသားတင်အမြတ် | ၁.၈၅ | ၂.၉၉ | ၄.၈၄ |

၆။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ်နှင့် (၇)လဖြစ်ပြီး၊ အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၃.၄၃)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(က) ဝင်ငွေခွန် ကျပ် ၀.၇၉ သန်း

အမေရိကန်ဒေါ်လာ ၀.၀၉ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁.၁၈ သန်း

၈။ လုပ်ငန်းကို ပြည်တွင်းမှ ဝန်ထမ်း(၃၃၀)ဦး နှင့် ပြည်ပမှ ဝန်ထမ်း(၂)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းအတွက် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနသို့ သဘောထား မှတ်ချက်တောင်းခံခဲ့ရာ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်းမှ ဓါတ်အားဆက်လက်ပေးနိုင်ပါကြောင်း ပြန်ကြားလာပါသည်။

၁၀။ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ဘေးပတ်ဝန်းကျင်မှ ကန့်ကွက်ရန် မရှိကြောင်း သက်ဆိုင်ရာ ရပ်ကွက် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ ထောက်ခံထားခြင်းတို့ကြောင့် ဆက်လက်ဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း အကြောင်းပြန်ကြားလာပါသည်။

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | မြန်မာဧရာဝတီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Myanmar Ayeyarwaddy Manufacturing Co., Ltd.) | ၁။ ဒေါ်သီသီဝင်း (အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ် (၅)၊ မိုးမခလမ်း၊ (၄၆)ရပ်ကွက်၊ ဒဂုံမြို့သစ်(မြောက်ပိုင်း)မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဒေါ်အေးကြွယ် (ဒါရိုက်တာ) | အမှတ် (၁၂)၊ ညီညွတ်ရေးလမ်း၊ (၁၁)မိုင်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

# မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း

စာအမှတ်၊ ၃၀ /အသဖ(ထ)ရင်းနှီးမြှုပ်နှံမှု/၂၀၀၃။
ရက်စွဲ ၊ ၂၀၀၃ခုနှစ်၊ ဇန်နဝါရီလ(၂၂)ရက်။

အကြောင်းအရာ။ ။ <u>သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။</u>

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁-၁၂-၂၀၀၂ ရက်စွဲပါ စာအမှတ် ရက-၁-မ/သဘောထား/၂၀၀၂(၄၀၃၉)။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုလွှာများနှင့် ပတ်သက်၍ ရည်ညွှန်းစာဖြင့် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏သဘောထားမှတ်ချက် တောင်းခံလာပါ သည်။

၂။ နောက်ဆက်တွဲပါ(၄)ဦးမှာ လုပ်ငန်းသစ်များမဟုတ်ဘဲ တည်ဆောက်ပြီးလည်ပတ်နေသော စက်ရုံများဖြစ်၍ လျှပ်စစ်ဓာတ်အား ရရှိသုံးစွဲလျက်ရှိပါသည်။ ဆက်လက်ဓာတ်အားပေးနိုင်ပါကြောင်း ပြန်ကြားအစီရင်ခံအပ်ပါသည်။

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)
(ဒေါက်တာစန်းဦး-အင်ဂျင်နီယာချုပ်)

လိပ်စာ
၁၉၇ - ၁၉၉၊ ကြည်မြင်တိုင်အောက်လမ်း၊
အလုံစာတိုက်၊ ရန်ကုန်မြို့။

ကြေးနန်း
လျှပ်စစ်အဖွဲ့

တယ်လီဖုန်း
၂၂၂၈၆၆

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့် တင်ပြလာသည့် အဆိုပြုချက်များ

| စဉ် | ကုမ္ပဏီအမည်နှင့် အဆိုပြုသူအမည် | လုပ်ငန်းအမျိုးအစား | ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ | လျှပ်စစ်ဓာတ်အား လိုအပ်ချက် | လျှပ်စစ်ဓာတ်အားလက်ရှိသုံးစွဲနေမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁။ | မြန်မာဗွီတီ ကုမ္ပဏီလီမိတက် ဦးအောင်ကျော်သန်း | CMPစနစ်ဖြင့်အထည်ချုပ် လုပ်ငန်း | ရန်ကုန်မြို့၊ ရွှေပြည်သာစက်မှုဇုန် (၁) မြေတိုင်းရပ်ကွက် အမှတ် ၄၂/မြေကွက် အမှတ် ၁၀၃၊ ကနောင်မင်းသားကြီးလမ်း၊ | ၇၄၀၀၀ ကီလိုဝပ် (မဖြစ်နိုင်ပါ။) ၄၀၀ KVA | ၃ သွင် ၄ ကြိုး (၅၀/၁၀၀) အင်ပီယာ (မီတာအမှတ်-XN- 11925) ဖြင့် မြင်းကောင်ရေ (၁၀) ကောင်ကို သုံးစွဲခွင့်ပြုထားပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၂။ | မြန်မာရောဝတီထုတ်လုပ်မှု ကုမ္ပဏီလီမိတက် ဒေါ်သင်းသင်းဝင်း | CMPစနစ်ဖြင့်အထည်ချုပ် လုပ်ငန်း | ရန်ကုန်မြို့၊ အင်းစိန်မြို့နယ် အမှတ် (၉၁၂) အောက်မင်္ဂလာဒုံလမ်း။ | ၂၅၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၃၀/၁၀၀) အင်ပီယာ (မီတာအမှတ်-XN- 14675) ဖြင့် မြင်းကောင်ရေ (၄၀) ကောင်ကို သုံးစွဲခွင့်ပြုထားပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၃။ | နီလာဝင်းကုမ္ပဏီလီမိတက် ဦးဇော်လင်းလတ် | CMPစနစ်ဖြင့်အထည်ချုပ် လုပ်ငန်း | ရန်ကုန်မြို့၊ မြောက်ဥက္ကလာပမြို့နယ် ရွှေပေါက်ကံစက်မှုဇုန် အမှတ် ၂၂၇/၂၂၈ ဗိုလ်တေဇလမ်း။ | ၃၀၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၅၀/၁၀၀) အင်ပီယာ မြင်းကောင်ရေ (၄၀) ကောင်ကို သုံးစွဲခွင့်ပြုထားပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၄။ | ဌတ်ဒ်ဝဲယားမင်န်ယူဖက်ချားရင်း လီမိတက် ဦးကျောက်ယိနိမ့် | CMPစနစ်ဖြင့်အထည်ချုပ် လုပ်ငန်း | ရန်ကုန်မြို့၊ သဃ်န်းကျွန်းမြို့နယ်၊ အမှတ် ၃၇/၃၈ (က) (၈)ရပ်ကွက်၊ ကြိုးစက်ရုံလမ်း | | ၃ သွင် ၄ ကြိုး (၁၅၀/၅၀) အင်ပီယာ (မီတာအမှတ်-XN- 9927) ဖြင့် မြင်းကောင်ရေ (၅၀) ကောင်ကို သုံးစွဲခွင့်ပြုထားပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်

**ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ**

**နိုင်ငံခြားဆက်ဆံရေးနှင့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအဖွဲ့**

စာအမှတ်၊ ၂၃၃၀/နဆရ/စည်ပင်-ယာ/အုံ(စစ်)

ရက် စွဲ ၊ ၂၀၀၂ ခုနှစ် နိုဝင်ဘာလ ၂၈ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။     <u>သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ</u>

ရည် ညွှန်း ချက်။     မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၁၁-၂၀၀၂ ရက်စွဲပါစာအမှတ်၊ ရက-၁/ CMP/ ၂၀၀၂ (၃၄၆၆-ခ)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်မဟုတ်ဘဲ၊ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်လျက်ရှိသော မြန်မာဧရာဝတီထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏ လုပ်ငန်းတည်နေရာနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်လူနေအိမ်များမှ ကန့်ကွက်ထားမှုရှိ မရှိနှင့် ပတ်ဝန်းကျင်အခြေအနေအား ကော်မရှင်အစည်းအဝေးသို့ တင်ပြနိုင်ရေးအတွက် စက်ရုံ တည်နေရာပြပုံစံနှင့်အတူ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် ဤကော်မတီသို့ ညှိနှိုင်းမေတ္တာရပ်ခံခဲ့ပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ မေတ္တာရပ်ခံချက်အရ ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီမှ အဖွဲ့ဖြင့် အဆိုပါလုပ်ငန်းဆောင်ရွက်နေသည့် နေရာသို့ ၂၆-၁၁-၂၀၀၂ ရက်နေ့တွင် ကွင်းဆင်း စစ်ဆေး ခဲ့ပါသည်။ ယင်းကုမ္ပဏီ၏ လုပ်ငန်းဆောင်ရွက်မှုနှင့် ပတ်ဝန်းကျင်အခြေအနေ စစ်ဆေးတွေ့ရှိချက်များအား အောက်ပါအတိုင်း သုံးသပ်တင်ပြအပ်ပါသည်-

(က) **စစ်ဆေးတွေ့ရှိချက်။** မြန်မာဧရာဝတီထုတ်လုပ်မှုကုမ္ပဏီလီမိတက်သည် အင်းစိန်မြို့နယ်၊ စဉ့်ငူရပ်ကွက်၊ အောက်မင်္ဂလာဒုံလမ်း၊ အမှတ်(၉၁၂)တွင် CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်လျက်ရှိပါသည်။ မြေဧရိယာအကျယ်မှာ(၂၀၀ပေ×.၅၆ပေ)နှင့်(၄၀ပေ× ၆၀ပေ) ရှိပါသည်။ အဆိုပါမြေပေါ်တွင် (၁၉၄ပေ× ၄၀ပေ)ရှိ RC အဆောက်အအုံနှင့် (၉၃ပေ× ၆၂ပေ)ရှိ ပျဉ်ထောင်အဆောက်အအုံရှိပါသည်။ ယင်းမြေနှင့် အဆောက်အအုံကို ပိုင်ရှင်ဖြစ်သူ ဦးမျိုးမြင့်ထံမှ (၅)နှစ်စာချုပ်ဖြင့် ၁-၄-၂၀၀၀ ရက်နေ့မှစတင်၍ ငှားရမ်းပြီး လုပ်ငန်း

ဆောင်ရွက် နေခြင်းဖြစ်ပါသည်။ စက်ရုံ၏ အရှေ့ဘက်တွင် အမှတ်(၂)စက်မှုလက်မှုလုပ်ငန်းစက်ရုံနှင့် ဘေးအနီးပတ်ဝန်းကျင်တွင် အထည်စက်ရုံနှင့် စောင်စက်ရုံတို့ တည်ရှိပါသည်။ စက်ရုံပတ်ဝန်းကျင်သန့်ရှင်းသပ်ရပ်မှုရှိပါသည်။ စက်ရုံတည်နေရာပြပုံစံကို နောက်ဆက်တွဲ(က) ဖြင့် ပူးတွဲတင်ပြထားပါသည်။ ယင်းကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာမှာ ဒေါ်သီသီဝင်းဖြစ်ပြီး အလုပ်သမား ဦးရေ(၃၆၀)ဦး၊ စက်အလုံးရေ(၁၄၆)လုံးဖြင့် အမျိုးသား/အမျိုးသမီးဝတ်ဂျာကင်၊ ဘောင်းဘီ ရှည်နှင့် ကလေးဝတ်အင်္ကျီအထည်များ ထုတ်လုပ်လျက်ရှိရာ တစ်လလျှင် အထည်မျိုးစုံဒါဇင် (၂၆၀၀)ခန့် ထုတ်လုပ်နိုင်ကြောင်း သိရှိရပါသည်။ လုပ်ငန်းလုပ်ကိုင်နေသော နေရာမှာ လူနေရပ်ကွက်အတွင်း ဖြစ်နေသော်လည်း ပတ်ဝန်းကျင်မှ ကန့်ကွက်မှုတစ်စုံတစ်ရာမရှိကြောင်း လက်မှတ်ရေးထိုးထားခြင်းနှင့် သက်ဆိုင်ရာရပ်ကွက်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ထောက်ခံချက်အရ အင်းစိန်မြို့နယ်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ မြန်မာဧရာဝတီ အထည်ချုပ်စက်ရုံအား ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံတင်ပြထားပါသည်။

(ခ) **သုံးသပ်ချက်။** မြန်မာဧရာဝတီထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏ အထည်ချုပ်လုပ်ငန်းသည် လူနေရပ်ကွက်အတွင်း တည်ရှိနေသော်လည်း ယခင်ကတည်းက ဆောင်ရွက်လျက်ရှိသည့် လုပ်ငန်းဖြစ်ခြင်း၊ ပတ်ဝန်းကျင်အား ညစ်ညမ်းမှုမရှိခြင်း၊ အနှောင့်အယှက်မရှိခြင်း၊ ဘေးပတ်ဝန်းကျင်တွင် အခြားစက်ရုံများ တည်ရှိနေခြင်း၊ ပတ်ဝန်းကျင်မှလည်း တစ်စုံတစ်ရာ ကန့်ကွက်မှုမရှိသည့်အပြင် သက်ဆိုင်ရာရပ်ကွက်နှင့်မြို့နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ကန့်ကွက်မှုမရှိကြောင်းထောက်ခံတင်ပြထားခြင်းတို့ကြောင့် ယင်းအထည်ချုပ် လုပ်ငန်းအား ဆက်လက်ဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း သုံးသပ်ရရှိပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်မဟုတ်ဘဲ၊ CMP စနစ်ဖြင့် မြန်မာဧရာဝတီထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ဆောင်ရွက်လျက်ရှိသော အထည်ချုပ်လုပ်ငန်း၏ တည်နေရာ၊ ပတ်ဝန်းကျင်အခြေအနေ၊ ကွင်းဆင်းစစ်ဆေးတွေ့ရှိချက်နှင့် သုံးသပ်ချက်များကို သိရှိနိုင်ပါရန် တင်ပြအပ်ပါသည်။

ဉာဏ်ကြည်

မိတ္တူကို

မျှောစာတွဲ

ရုံးလက်ခံ

၄/၂၀၀၃
MIC
၆.၂.၂၀၀၃



## လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏အဓိကအချက်များ

## (မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | မြန်မာဧရာဝတီထုတ်လုပ်မှုကုမ္ပဏီလီမိတက်<br>(Myanmar Ayeyarwaddy Manufacturing Co., Ltd.)<br>(၂-၅-၂၀၀၀ပြည့်နှစ် နေ့တွင်မှတ်ပုံတင်ပြီး) |
| ၂။ | လုပ်ငန်း အဆိုပြုသူအမည် | ဒေါ်သီသီဝင်း |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုး အစား | C M P စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်း<br>(အဟောင်း ) |
| ၄။ | တည်နေရာ | မြေတိုင်း ရပ်ကွက်အမှတ် (၄၀၀၊ B)၊ မြေကွက်အမှတ်အမှတ် (၉)၊ စဉ့်ငူရပ်ကွက်၊အင်းစိန်မြို့နယ်၊ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | <u>ကျပ် ၁၉ .၆၄ သန်း</u> |
| | - စက်ပစ္စည်း ကိရိယာများ | ကျပ် ၁၉ .၁၆ သန်း |
| | - ပရိဘောဂနှင့်လုပ်ငန်း သုံးပစ္စည်းများ | ကျပ် ၀ .၄၈ သန်း |
| ၆။ | မြေအကြောင်း အရာ | |
| | - မြေအကျယ်အဝန်း | (၀ .၄၆) ဧကအနက် (၀ .၃၁) ဧက<br>[(၁၂၅၄ .၅၃) စတုရန်း မီတာ] |
| | - မြေပိုင်ဆိုင်မှု | ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီ ထံမှဦး တင်ကြိုင်၊ ဒေါ်သွန်းကြည်တို့အမည်ဖြင့်အသုံး ပြုခွင့်ရရှိထား သောမြေ (မြေနှင့်အဆောက်အဦကိုငှါး ရမ်း အသုံး ပြုခြင်းဖြစ်ပါသည်။ |
| | - မြေအမျိုး အစား | အိမ်မြေ |
| ၇။ | ထုတ်လုပ်မှု (ပုံမှန်နှစ်) | <u>ဒါဇင် ပေါင်း</u> |
| | - Jacket | ၂၀၀၀၀ |
| | - Trouser | ၂၀၀၀၀ |
| | - Others(Vest,Panty...etc) | <u>၂၅၀၀၀</u> |
| | | ၆၅၀၀၀ (တစ်ဦးလျှင်တစ်နှစ် မျှမ်းမျှ (၂၁၁)ဒါဇင် |

အား ပေး နိုင်ပါကြောင်း ပြန်ကြား လာပါသည် (ပူး တွဲ)

- <u>ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ</u> သို့သဘောထား မှတ်ချက် တောင်း ခံ့ခဲ့ရာအဆို ပြုလုပ်ငန်း သည်ယခင်ကတည်း က ဆောင်ရွက်လျက် ရှိသည့်လုပ်ငန်း ဖြစ်ပြီး ယင်းစက်ရုံသည်လူ နေရပ် ကွက်အတွင်းတည်ရှိ နေ သော်လည်း ပတ်ဝန်းကျင် အား ညစ်ညမ်း မှုမရှိခြင်း ၊ ဘေး ပတ်ဝန်းကျင် မှကန့်ကွက် မှုတစ်စုံတစ်ရာမရှိ ကြောင်း၊သက်ဆိုင် ရာရပ်ကွက် အေး ချမ်းသာယာရေး နှင့်ဖွံ့ဖြိုး ရေး ကောင်စီမှ ထောက်ခံထား ခြင်းတို့ကြောင့် ယင်း အထည် ချုပ်လုပ်ငန်းအားဆက်လက်ဆောင်ရွက် ခွင့်ပြုသင့် ကြောင်း အ ကြောင်းပြန်ကြားလာပါ သည်။ (ပူး တွဲ)
- ယခုအဆိုပြုလုပ်ငန်း သည် CMP လက်ခစားလုပ်ငန်း များ စိစစ် ရေး ကော်မတီမှစိစစ် ထောက်ခံ တင်ပြလာ သော CMP လုပ်ငန်း ဟောင်းဖြစ်ပါ၍ ကော်မရှင်အစည်း အဝေး သို့ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။
- ငွေရေး ကြေး ရေး ဆိုင်ရာအ ထောက်အထား အဖြစ်ကမကထပြုသူ ဒေါ်သီသီဝင်း အမည်ဖြင့် အာရှဓနဘဏ်လီမိတက်ရှိ ( ၁၀-၁၂-၂၀၀၂ ) ဘဏ်လက်ကျန် ငွေကျပ် ( ၅ .၀၀ ) သန်း ရှိပါကြောင်း တင်ပြထား ပါသည်။
- ပူး တွဲပါဥပဒေပုဒ်မ ၁၂ နှင့် ၁၃ အရအခွန် ကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစား ခွင့်ပြုရန် လျှောက်ထား လာပါသည်။
- ခွင့်ပြုမိန့်ထုတ် ပေး ပြီး CMP အထည် ချုပ်လုပ်ငန်း

ပေါင်း (၁၇၃) ခုတွင် CMP အထည်ချုပ်လုပ်ငန်းဟောင်း (၂၁) ခုပါဝင်ပါသည်။ ယခုအဆိုပြုလုပ်ငန်းအပါအဝင်တင်ပြထားသော အထည်ချုပ်လုပ်ငန်း (၆၅) ခုရှိပါသည်။

၁၇။ ၄င်းတို့၏တင်ပြသောအဆိုပြုချက်အရထုတ်လုပ်မှု (ပုံမှန်နှစ်)

| အထည်အမျိုးအစား | ဒါဇင် | ချုပ်ခနှုန်း (US$/Doz) | မျှော်မှန်းသော CMP လက်ခရငွေ ( US $ ) |
|---|---|---|---|
| - Jacket | ၂၀၀၀၀ | ၁၀.၀ | ၂၀၀၀၀၀ |
| Trouser | ၂၀၀၀၀ | ၈.၀ | ၁၆၀၀၀၀ |
| Others(Vest, Panty.. etc) | ၂၅၀၀၀ | ၃.၆ | ၉၀၀၀၀ |
| စုစုပေါင်း | ၆၅၀၀၀ | | ၄၅၀၀၀၀ |

(တစ်ဦး တစ်နှစ်ပျမ်းမျှ (၂၁၁) ဒါဇင်နှုန်း ရှိပါသည်။ )

- အဆိုပြုလွှာပါပြည်တွင်း အလုပ်သမား (၃၃၀) ဦး ရှိပါသည်။ ထို့ကြောင့်အဆိုပြုလွှာပါတစ်ဦး တစ်လ = ( US $ ၄၅၀၀၀၀ ÷ ၃၃၀ ) ÷ ၁၂ အတွက် မျှော်မှန်းသော ချုပ်ခရငွေ

= ၁၁၃.၆၃ ဒေါ်လာဖြစ်ပါသည်။



* ဌေး * ၄-၂-၂၀၀၃။

ပူးတွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းမှ ပြည်ပသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ် (၅၀ %) ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျှက် ပထမဝင်ငွေခွန်ကင်းလွတ်ခွင့်(၃)နှစ်ခံစားပြီး နောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစား ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဂ)အရ ကုန်ထုတ်လုပ်မှုကြောင့် ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီဝင်ငွေခွန် သက်သာခွင့်ကိုလုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထား လာသည့်အခါစဉ်းစား ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဃ)အရ သွင်းကုန်အစားထိုး လုပ်ငန်း အဖြစ်အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ်သင့်လျော်သော ကာလအထိဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကိုအကျုံးဝင် ခြင်းမရှိဟုသုံးသပ်ရပါသည်။



မ ၁ *

- ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိမည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်း အတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဈ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်သည့်ပစ္စည်းများ ပြည်ပသို့ တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် နှင့် စပ်လျဉ်း၍ CMP စနစ်ဖြင့် ထုတ်လုပ်သည့်ပစ္စည်းများအား ပြည်ပသို့ တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

**နိုင်ငံခြားဆက်ဆံရေးနှင့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအဖွဲ့**

စာအမှတ်၊ ၂၃၃၀/ နဆရ/ စည်ပင်-ယာ/ အုံ(စစ်)

ရက်စွဲ ၊ ၂၀၀၂ ခုနှစ် နိုဝင်ဘာလ ၂၈ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၁၁-၂၀၀၂ ရက်စွဲပါစာအမှတ်၊ ရက-၁/ CMP/ ၂၀၀၂ (၃၄၆၆-ခ)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်မဟုတ်ဘဲ၊ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်လျက်ရှိသော **မြန်မာဧရာဝတီထုတ်လုပ်မှုကု**မ္ပဏီလီမိတက်၏ လုပ်ငန်းတည်နေရာနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်**လူနေအိမ်များမှ ကန့်ကွက်ထားမှုရှိ မရှိနှင့် ပတ်ဝန်းကျင်အခြေအနေအား** ကော်မရှင်အစည်းအဝေးသို့ တင်ပြနိုင်ရေးအတွက် စက်ရုံ တည်နေရာပြပုံစံနှင့်အတူ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် ဤကော်မတီသို့ ညွှန်ကြားမေတ္တာရပ်ခံခဲ့ပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ မေတ္တာရပ်ခံချက်အရ ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီမှ အဖွဲ့ဖြင့် အဆိုပါလုပ်ငန်းဆောင်ရွက်နေသည့် နေရာသို့ ၂၆-၁၁-၂၀၀၂ ရက်နေ့တွင် ကွင်းဆင်း စစ်ဆေး ခဲ့ပါသည်။ ယင်းကုမ္ပဏီ၏ လုပ်ငန်းဆောင်ရွက်မှုနှင့် ပတ်ဝန်းကျင်အခြေအနေ စစ်ဆေးတွေ့ရှိချက်များအား အောက်ပါအတိုင်း သုံးသပ်တင်ပြအပ်ပါသည်-

(က) **စစ်ဆေးတွေ့ရှိချက်။** မြန်မာဧရာဝတီထုတ်လုပ်မှုကုမ္ပဏီလီမိတက်သည် အင်းစိန်မြို့နယ်၊ စဉ့်ကူရပ်ကွက်၊ အောက်မင်္ဂလာဒုံလမ်း၊ အမှတ်(၉၁၂)တွင် CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်လျက်ရှိပါသည်။ မြေဧရိယာအကျယ်မှာ(၂၀၀ပေ× ၅၆ပေ)နှင့်(၄၀ပေ× ၆၀ပေ) ရှိပါသည်။ အဆိုပါမြေပေါ်**တွင် (၁၉၄ပေ× ၄၈ပေ)**ရှိ RC အဆောက်အအုံနှင့် (၉၃ပေ× ၆၂ပေ)ရှိ ပျဉ်ထောင်အဆောက်အအုံရှိပါသည်။ ယင်းမြေနှင့် အဆောက်အအုံကို ပိုင်ရှင်ဖြစ်သူ ဦးမျိုးမြင့်ထံမှ (၅)နှစ်စာချုပ်ဖြင့် ၁-၄-၂၀၀၀ ရက်နေ့မှစတင်၍ ငှားရမ်းပြီး လုပ်ငန်း

ဆောင်ရွက် နေခြင်းဖြစ်ပါသည်။ စက်ရုံ၏ အရှေ့ဘက်တွင် အမှတ်(၂)စက်မှုလက်မှုလုပ်ငန်းစက်ရုံနှင့် ဘေးအနီးပတ်ဝန်းကျင်တွင် အထည်စက်ရုံနှင့် စောင်စက်ရုံတို့ တည်ရှိပါသည်။ စက်ရုံပတ်ဝန်းကျင်သန့်ရှင်းသပ်ရပ်မှုရှိပါသည်။ စက်ရုံတည်နေရာပြပုံစံကို နောက်ဆက်တွဲ(က) ဖြင့် ပူးတွဲတင်ပြထားပါသည်။ ယင်းကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာမှာ ဒေါ်သီသီဝင်းဖြစ်ပြီး အလုပ်သမား ဦးရေ(၃၆၀)ဦး၊ စက်အလုံးရေ(၁၄၆)လုံးဖြင့် အမျိုးသား/အမျိုးသမီးဝတ်ဂျာကင်၊ ဘောင်းဘီ ရှည်နှင့် ကလေးဝတ်အင်္ကျီအထည်များ ထုတ်လုပ်လျက်ရှိရာ တစ်လလျှင် အထည်မျိုးစုံဒါဇင် (၂၆၀၀)ခန့် ထုတ်လုပ်နိုင်ကြောင်း သိရှိရပါသည်။ လုပ်ငန်းလုပ်ကိုင်နေသော နေရာမှာ လူနေရပ်ကွက်အတွင်း ဖြစ်နေသော်လည်း ပတ်ဝန်းကျင်မှ ကန့်ကွက်မှုတစ်စုံတစ်ရာမရှိကြောင်း လက်မှတ်ရေးထိုးထားခြင်းနှင့် သက်ဆိုင်ရာရပ်ကွက်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ထောက်ခံချက်အရ အင်းစိန်မြို့နယ်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ မြန်မာ ဧရာဝတီ အထည်ချုပ်စက်ရုံအား ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံတင်ပြထားပါသည်။

(ခ) သုံးသပ်ချက်။ မြန်မာဧရာဝတီထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏ အထည်ချုပ်လုပ်ငန်းသည် လူနေရပ်ကွက်အတွင်း တည်ရှိနေသော်လည်း ယခင်ကတည်းက ဆောင်ရွက်လျက်ရှိသည့် လုပ်ငန်းဖြစ်ခြင်း၊ ပတ်ဝန်းကျင်အား ညစ်ညမ်းမှုမရှိခြင်း၊ အနှောင့်အယှက်မရှိခြင်း၊ ဘေးပတ်ဝန်းကျင်တွင် အခြားစက်ရုံများ တည်ရှိနေခြင်း၊ ပတ်ဝန်းကျင်မှလည်း တစ်စုံတစ်ရာ ကန့်ကွက်မှုမရှိသည့်အပြင် သက်ဆိုင်ရာရပ်ကွက်နှင့်မြို့နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ကန့်ကွက်မှုမရှိကြောင်းထောက်ခံတင်ပြထားခြင်းတို့ကြောင့် ယင်းအထည်ချုပ် လုပ်ငန်းအား ဆက်လက်ဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း သုံးသပ်ရရှိပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်မဟုတ်ဘဲ၊ CMP စနစ်ဖြင့် မြန်မာဧရာဝတီထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ဆောင်ရွက်လျက်ရှိသော အထည်ချုပ်လုပ်ငန်း၏ တည်နေရာ၊ ပတ်ဝန်းကျင်အခြေအနေ၊ ကွင်းဆင်းစစ်ဆေးတွေ့ရှိချက်နှင့် သုံးသပ်ချက်များကို သိရှိနိုင်ပါရန် တင်ပြအပ်ပါသည်။

ဦ ဏ္ဏ ဋ္ဌ

မိတ္တူကို

မျှောစာတွဲ

ရုံးလက်ခံ

